


# THE REPUBLIC OF THE UNION OF MYANMAR




## Myanmar Investment Commission

## PERMIT

Permit No. 093/2018 Date 7 July 2018

This Permit is issued by the Myanmar Investment Commission according to the section 25, sub-section (c) of the Myanmar Investment Law-

(1) Name of Investor MR. RAM CHANDER SINGH NARAYAN SINGH

(2) Citizenship INDIAN

(3) Residence Address NO. (85/1),TH ROAD, KALADIPET, CHENNAI-600019 TAMILNADU, INDIA

(4) Name and Address of Principle Organization -

(5) Place of Incorporation -

(6) Type of Business PRODUCTION AND MARKETING OF IRON AND STEEL

(7) Place(s) at which investment is permitted PLOT NO. 338,339,340,343,344, 345, MYAUNG DA GAR STEEL INDUSTRIAL ZONE, HMAWBI TOWNSHIP, YANGON REGION

(8) Amount of Foreign Capital US$ 4.95 MILLION

(9) Period for Foreign Capital to be brought in WITHIN ONE YEAR FROM THE DATE OF ISSUANCE OF MIC PERMIT

(10) Total amount of capital (Kyat) EQUIVALENT IN KYAT OF US$ 4.95 MILLION

(11) Construction Period 2 (TWO) YEARS

(12) Validity of investment permit 50 YEARS

(13) Form of investment WHOLLY FOREIGN OWNED

(14) Name of Company incorporated in Myanmar YANGON J.R FAMILY LIMITED

Thaung Tun

Chairman

Myanmar Investment Commission




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၉၃/၂၀၁၈ ၂၀၁၈ ခုနှစ် ဇူလိုင်လ 7 ရက်

မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူအမည် MR. RAM CHANDER SINGH NARAYAN SINGH

(၂) နိုင်ငံသား INDIAN

(၃) နေရပ်လိပ်စာ NO.(85/1), TH ROAD, KALADIPET, CHENNAI-600019 TAMILNADU, INDIA

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ _

(၅) ဖွဲ့စည်းရာအရပ် _

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား သံနှင့်သံမဏိထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေကွက်အမှတ်-၃၃၈၊၃၃၉၊၃၄၀၊၃၄၃၊၃၄၄၊၃၄၅၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ အမေရိကန်ဒေါ်လာ ၄.၉၅ သန်း

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးနေ့မှ ၁ နှစ်အတွင်း

(၁၀) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၄.၉၅ သန်းနှင့် ညီမျှသော မြန်မာကျပ်ငွေ

(၁၁) တည်ဆောက်မှုကာလ ၂ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း ၅၀ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် YANGON J.R FAMILY LIMITED

Thaung Tun

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်






# THE REPUBLIC OF THE UNION OF MYANMAR
## MYANMAR INVESTMENT COMMISSION

No.1,Thitsar Road, Yankin Township,Yangon

Tel: 01- 658128
Fax: 01-658141

Our ref :MIC-3/P-016/2018( 113 )
Date : 7 July 2018

Subject: **Decision of the Myanmar Investment Commission on the proposal for Production and Marketing of Iron and Steel under the name of Yangon J.R Family Limited**

Reference: Yangon J.R Family Company Limited's letter dated on 16th May 2018

1. The Myanmar Investment Commission, at its meeting (9/2018) held on 7th July 2018, approved the permit for investment in production and marketing of iron and steel under the name of Yangon J.R Family Limited submitted by Mr. Ram Chander Singh Narayan Singh (30%) ,Mrs. Singh Hena (10%), Mrs. Pramod Singh Pallavi (10%), Mr. Ram Chander Singh Pramod Singh (10%), Mrs. Ram Chander Singh Janki Devi (10%), Mr. Narayan Singh Kanishk Singh (10%), Mrs. Narayan Manju Singh (10%) and Mr. Mangal Singh Ramchander Singh (10%) from India as a wholly foreign owned investment in accordance with the Myanmar Investment Law and Rules.

2. The terms and conditions of the Permit are stated in the following paragraphs:

(a) The term of the Permitted project shall be fifty (50) years commencing from the date of the issuance of the permit by the Myanmar Investment Commission.

(b) The term of the Lease Agreement for land shall be initial fifty (50) years commencing from the date of signing of the Lease Agreement for land between U Satthi Wail (Lessor) and Yangon J.R Family Limited (Lessee) and extendable for two (2) times for ten (10) years by mutual agreement between the Lessor and the

Lessee subject to the approval of Myanmar Investment Commission.

(c) The annual rent for the land shall be US$ 19,200 (United States Dollar nineteen thousand and two hundred only) calculated at the rate of US$ 0.43 per square metre per year of the total area measuring 44,422.382 square metres(10.977 acres).

(d) Yangon J.R Family Limited, which has obtained this permit to receive benefits relating to the right to use exemptions and reliefs under sections 75, 77 and 78 of the Chapter XVIII of Myanmar Investment Law, may submit the application form.

(e) Yangon J.R Family Limited shall use its best efforts to achieve a timely realization of the work stated in the permit application.

(f) Yangon J.R Family Limited shall obey and respect the responsibilities of investors under section 65 of Myanmar Investment Law and Chapter XX of Myanmar Investment Rules.

(g) Yangon J.R Family Limited shall carry out prevention, mitigation and monitoring of significant environmental impacts according to the type of investment activities in accordance with the relevant laws, rules, regulations and procedures.

(h) Yangon J.R Family Limited shall submit to the Commission of any transfer of shares or transfer of the business to any person during the investment period in accordance with section 72 of Myanmar Investment Law and rule 191 of Myanmar Investment Rules.

(i) If Yangon J.R Family Limited which has benefitted from the permit or exemptions and reliefs shall submit an annual report in the prescribed form to the Commission within three (3) months of the end of the financial year in accordance with rule

196 of Myanmar Investment Rules and shall publish a summary of report on its website or the Commission's website.

(j) Yangon J.R Family Limited must, during the operation period under the permit of the Commission, submit its operating report quarterly in the prescribed form in accordance with rule 197 of Myanmar Investment Rules.

3. Yangon J.R Family Limited shall submit five (5) copies of all approvals, licences, permits and similar authorizations relevant to the initial implementation of the investment and Lease Agreement to the Commission.

Thaung Tun

(Thaung Tun)
Chairman

**Yangon J.R Family Limited**

cc: 1. Office of the Government of the Republic of the Union of Myanmar
2. Ministry of Home Affairs
3. Ministry of Natural Resources and Environmental Conservation
4. Ministry of Labour, Immigration and Population
5. Ministry of Industry
6. Ministry of Commerce
7. Ministry of Planning and Finance
8. Yangon Region Investment Committee
9. Office of the Yangon Region Government
10. Director General, Department of Environmental Conservation
11. Director General, Directorate of Labour
12. Director General, Department of Immigration
13. Director General, Directorate of Industrial Supervision and Inspection
14. Managing Director, No (3) Heavy Industry Enterprise
15. Director General, Department of Trade
16. Director General, Directorate of Investment and Company Administration

17. Director General, National Archives Department
18. Director General, Customs Department
19. Director General, Internal Revenue Department
20. Yangon Region Office, Directorate of Investment and Company Administration

ကန့်သတ်

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yangon J.R Family Ltd. မှ သံနှင့်သံမဏိထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - **Yangon J.R Family Ltd.**<br>- Mr. Ram Chander Singh Narayan Singh (Indian) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Mr. Ram Chander Singh Narayan Singh (Indian) ၃၀%<br>Mrs. Singh Hena (Indian) ၁၀%<br>Mrs. Pramod Singh Pallavi (Indian) ၁၀%<br>Mr. Ram Chander Singh Pramod Singh (Indian) ၁၀%<br>Mrs. Ram Chander Singh Janki Devi (Indian) ၁၀%<br>Mr. Narayan Singh Kanishk Singh (Indian) ၁၀%<br>Mrs. Narayan Manju Singh (Indian) ၁၀%<br>Mr. Mangal Singh Ramchander Singh (Indian) ၁၀% |
| | လုပ်ငန်းအမျိုးအစား | - သံနှင့်သံမဏိထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- ၃၄၀၊ ၃၄၃၊ ၃၃၈၊ ၃၄၅၊ ၃၃၉၊၃၄၄၊ မြောင်းတကာသံမဏိစက်မှုဇုန်၊မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးဆာသီဝေလ် |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၁၀.၈၇၇ ဧက (၄၄,၄၂၂.၃၈၂ စတုရန်းမီတာ) |
| | မြေ/အဆောက်အအုံ ငှားရမ်းခ | - တစ်နှစ်လျှင် US$ ၁၉၂၀၀ နှုန်း<br>(တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၀.၄၃ နှုန်း) |
| | မြေ/အဆောက်အအုံ ငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ကနဦး ၅၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်<br>သက်တမ်း | - ကနဦး ၅၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၂ နှစ် |

| | | |
|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - US$ ၄.၉၅ သန်း |
| | | **US$ သန်း** |
| | ငွေသား | ၀.၅၄ |
| | စက်ပစ္စည်း (ပြည်ပ) | ၃.၄၇ |
| | အဆောက်အဦကုန်ကျစရိတ် | ၀.၉၂ |
| | ရုံးအသုံးအဆောင်ပစ္စည်း (ပြည်တွင်း) | ၀.၀၂ |
| | **စုစုပေါင်း** | **၄.၉၅** |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ၁၀၀ % ပြည်တွင်းရောင်းချခြင်း |
| ၈။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | |

| အမျိုးအစား | အရေအတွက် (M-Ton) | ရောင်းဈေးနှုန်း (Kyat /M-Ton) |
|---|---|---|
| Iron and Steel | ၆၀,၀၀၀ | ၈၅၀,၀၀၀ |

၉။ အခြားတင်ပြချက်

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| **ဝန်ထမ်းဦးရေ** | ၃၅၃ ဦး | ၅ ဦး |
| **အမြင့်ဆုံးလစာ** | ကျပ် ၅၀၀,၀၀၀ | US$ ၄၅၀၀ |
| **အနိမ့်ဆုံးလစာ** | ကျပ် ၁၅၀,၀၀၀ | |

- ၁ US$ = ၁,၃၂၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။

- ငွေကြေးအထောက်အထားအဖြစ် Mr. Narayan Singh Kanishk Singh သည် Oriental Bank of Commerce ၌ ၁၅-၅-၂၀၁၈ နေ့တွင် INR ၆၂၅၈၇၅ (USD၉၂၃၅.၆၆) ရှိကြောင်း နှင့် Mr. Ram Chander Singh Narayan Singh သည် Oriental Bank of Commerce ၌ ၁၅-၅-၂၀၁၈ နေ့တွင် INR ၁၆၂၀၇၅၀( USD ၂၃၉၃၁.၁၇) တင်ပြထားပါသည်။

၁၀။ စိစစ်တင်ပြချက်

- အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတွင်ပါဝင်ပြီး ISIC Code. ၂၄၁၀ တွင် အကျုံးဝင်ပါသည်။
- အိန္ဒိယနည်း ပညာဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး Yangon JR ကုန်အမှတ် တံဆိပ်ဖြင့်ထုတ်လုပ်မည် ဖြစ်ကြောင်းတင်ပြထားပါသည်။

| | | |
|---|---|---|
| | | - ကုန်ကြမ်းပစ္စည်းများ ဖြစ်သော Silicon Manganese နှင့် Sponge Iron Lumps တို့အား မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှလည်းကောင်း၊ ဘုရင်နောင်ရှိဆိုင်များမှ လည်းကောင်း၊ စက်မှုဇုန်များမှ လည်းကောင်း၊ ပြင်ပသံထည် ပစ္စည်းအဟောင်းရောင်းသောဆိုင်များမှလည်းကောင်း ကုန်ကြမ်းများ ရယူသုံးစွဲသွားမည် ဖြစ်ကြောင်းနှင့် လိုအပ်ပါက ကုန်ကြမ်းများကို အိန္ဒိယနိုင်ငံတို့မှတင်သွင်းမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။<br>- အရည်ကျိုခြင်း၊ ပုံသွန်းလောင်းခြင်းတို့မှ ထွက်ရှိလာနိုင်သည့် ပတ်ဝန်းကျင်လေထု၊ မြေထုနှင့်ရေထုညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် ပတ်ဝန်းကျင် ထိခိုက်ဆန်းစစ်ခြင်း(EIA) အစီစဉ်များရေးဆွဲ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/ခ-၀၁၆/၂၀၁၈(၁၀၂)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၂၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yangon J.R Family Ltd. မှ သံနှင့်သံမဏိထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု လွှာတင်ပြလာခြင်းကိစ္စ**

၁။ အိန္ဒိယနိုင်ငံမှ Mr. Ram Chander Singh Narayan Singh ၃၀% ၊Mrs. Singh Hena ၁၀%၊Mrs. Pramod Singh Pallavi ၁၀%၊ Mr. Ram Chander Singh Pramod Singh ၁၀%၊ Mrs. Ram Chander Singh Janki Devi ၁၀%၊ Mr. Narayan Singh Kanishk Singh ၁၀%၊Mrs. Narayan Manju Singh ၁၀% နှင့်Mr. Mangal Singh Ramchander Singh ၁၀% ထည့်ဝင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yangon J.R Family Ltd. မှ မြေကွက်အမှတ်-၃၄၀၊၃၄၁၊၃၃၈၊၃၄၅၊၃၃၉၊၃၄၄၊ မြောင်းတကာသံမဏိ စက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ ၁၀.၉၇၇ ဧက (၄၄၄၂၂.၃၈၂ စတုရန်းမီတာ) တွင် သံနှင့်သံမဏိထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးဆာသီဝေလ်နှင့် Yangon J.R Family Ltd. တို့ အကြားချုပ်ဆိုမည့် မြေငှားရမ်းစာချုပ်မူကြမ်း၊ မြေဆိုင်ရာအထောက်အထားများနှင့် ထုတ်လုပ်မှု ပစ္စည်းနမူနာဓာတ်ပုံများအား ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါ သည်။ မြေဧရိယာ ၁၀.၉၇၇ ဧက (၄၄,၄၂၂.၃၈၂ စတုရန်းမီတာ)အား ငှားရမ်း၍ နှစ်စဉ် မြေငှားရမ်းခမှာ US$ ၁၉,၂၀၀ ဖြစ်ပြီး ၁ နှစ် တစ်စတုရန်းမီတာလျှင် US$ ၀.၄၃ နှုန်း ဖြစ်ပါ သည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့် မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ US$ ၄.၉၅ သန်း ဖြစ်ပါသည်။ မတည် ငွေရင်းထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| ထည့်ဝင်သည့်အမျိုးအစား | US$ သန်း |
|---|---|
| ငွေသား | ၀.၅၄ |
| စက်ပစ္စည်း (ပြည်ပ) | ၃.၄၇ |
| အဆောက်အဦကုန်ကျစရိတ် | ၀.၉၂ |
| ရုံးအသုံးအဆောင်ပစ္စည်း(ပြည်တွင်း) | ၀.၀၂ |
| **စုစုပေါင်း** | **၄.၉၅** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၃၅၃ ဦးနှင့် ပြည်ပဝန်ထမ်း ၅ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၄၅၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော ကုန်ပစ္စည်းများကို ပြည်တွင်း၌ ထုတ်လုပ်ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ် ပါသည်-

| **အမျိုးအစား** | **အရေအတွက် (M-Ton)** | **ရောင်းဈေးနှုန်း (Kyat/ M-Ton)** |
|---|---|---|
| Iron and Steel | ၆၀,၀၀၀ | ၈၅၀,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ရေးဆွဲတင်ပြရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

၉။ ငွေကြေးအထောက်အထားအဖြစ် Mr. Narayan Singh Kanishk Singh သည် Oriental Bank of Commerce ၌ ၁၅-၅-၂၀၁၈ နေ့တွင် INR ၆၂၅၈၇၅ (USD၉၂၃၅.၆၆) ရှိကြောင်း နှင့် Mr. Ram Chander Singh Narayan Singh သည် Oriental Bank of Commerce ၌ ၁၅-၅-၂၀၁၈ နေ့တွင် INR ၁၆၂၁၇၅၀( USD ၂၃၉၃၀.၁၇) တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ပုဒ်မ ၃၆ (ဂ)အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) ဆောင်ရွက်ရမည် ဖြစ်ပါသည်။ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုချက်လွှဲပြောင်းပေးပို့လာခြင်းဖြစ်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဂ) Corporate Social Responsibility (CSR) အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ်တို့ကိုလည်း တင်ပြထားပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတွင်ပါဝင်ပြီး သွင်းကုန်အစားထိုးလုပ်ငန်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) ကုန်ကြမ်းပစ္စည်းများ ဖြစ်သော Silicon Manganese နှင့် Sponge Iron Lumps တို့အား မြန်မာ့စီးပွားရေးဦးပိုင်လီမိ တက်မှလည်းကောင်း၊ ဘုရင့်နောင်ရှိ ဆိုင်များမှ လည်းကောင်း၊ စက်မှုဇုန်များမှ လည်းကောင်း၊ ပြင်ပသံထည် ပစ္စည်းအဟောင်းရောင်းသောဆိုင်များမှလည်းကောင်း ကုန်ကြမ်းများ ရယူသုံး စွဲသွားမည်ဖြစ်ကြောင်းနှင့် လိုအပ်ပါက ကုန်ကြမ်းများကို အိန္ဒိယနိုင်ငံတို့မှတင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yangon J.R Family Ltd. မှ သံနှင့်သံမဏိထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြ လာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကျော်ဘိုစား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့
စာအမှတ်၊ ရက-၁/၃/၄(အီးအိုင်အေ)(၄၆၈/၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေလ ၃ ရက်

သို့

✓ အတွင်းရေးမှူး
ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ **Yangon J.R Family Limited ၏ Production and Marketing of TMT Rebars (Thermo Mechanically Treated Rebars) ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၂၃-၄-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ရကတ/ရနမ-၂/၂၀၁၇ (၁၈၅)

၁။ ရာနှုန်းပြည့်နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံမှုဖြင့် Yangon J.R Family Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (မြောင်းတကာသံမဏိစက်မှုဇုန်)၊ မြေကွက်အမှတ် (၃၄၀၊ ၃၄၃၊ ၃၃၈၊ ၃၄၅၊ ၃၃၉၊ ၃၄၄) တွင် Thermo Mechanically Treated Rebars ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်လိုကြောင်း တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေအပိုဒ် ၇၁၊ ၇၂ (က) တို့အရ လက်ခံခြင်း၊ ငြင်းပယ်ခြင်းနှင့် အတည်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက် စိစစ်ပြီး ပတ်ဝန်းကျင်ဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို စိစစ်တွေ့ရှိရပါသည်-

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ နှစ် (၆၀) ဖြစ်ပြီး သက်တမ်းတိုး (၅) နှစ် (၁) ကြိမ် ဆောင်ရွက်ရမည်ဖြစ်ကာ တည်ဆောက်ပြင်ဆင်ရေးကာလမှာ (၃) နှစ် ဖြစ်ကြောင်း၊

(ခ) Thermo Mechanically Treated Rebars ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြေဧရိယာ ဧက (၁၀.၉၇၇) စတုရန်းမီတာပေါ်တွင် (၄၄,၄၂၂.၃၉) စတုရန်းပေ ပတ်လည်ရှိသော မြေနေရာ၌ လုပ်ငန်းတည်ထောင်ဆောင်ရွက်မည်ဖြစ်ကြောင်း၊

(ဂ) အသုံးပြုသည့်ကုန်ကြမ်းများမှာ Silicon Manganese နှင့် Sponge Iron Lumps တို့အား မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်မှလည်းကောင်း၊ ဘုရင့်နောင်ရှိဆိုင်များမှလည်းကောင်း၊ စက်မှုဇုန်များမှလည်းကောင်း၊ ပြင်ပသံထည်ပစ္စည်းအဟောင်းရောင်းသော ဆိုင်များမှ လည်းကောင်း ကုန်ကြမ်းများအား ရယူအသုံးပြုသွားမည်ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းသည် ပထမနှစ်တွင် Thermo Mechanically Treated Rebars များကို (၆၀,၀၀၀) ကုဗမီတာကျော်မှ (၅) နှစ်အတွင်း (၆၄,၀၀၀) ကုဗမီတာကျော်အထိ လည်းကောင်း တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊

(င) သတ္တုအရည်ကျိုရာတွင် Induction Furnace (Electronic Furnace) စနစ်အား အသုံးပြု၍ မီးခိုးငွေ့များနှင့် အမှုန်အမွှားများကို မှုတ်ထုတ်ပြီး မြေပြင်မှ ၃၃ မီတာအမြင့်ရှိသော ခေါင်တိုင်မှ တဆင့်လေထုထဲသို့ ထုတ်လွှတ်သွားမည်ဖြစ်ကြောင်း၊

(စ) နိုင်ငံခြားသားဝန်ထမ်း (၅) ဦးနှင့် နိုင်ငံသား (ပြည်တွင်း) ဝန်ထမ်း (၁၉၂) ဦး စုစုပေါင်း (၁၉၇) ဦးခန့်အပ်ပြီး လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်းကို လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Cooperate Social Responsibility - CSR) လုပ်ငန်းများတွင် ထည့်ဝင် အသုံးပြုသွားမည်ဖြစ်ကြောင်း။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း သုံးသပ်တွေ့ရှိရပါသည်-

(က) Thermo Mechanicaliy Treated Rebars များအား အရည်ကျိုခြင်း၊ ပုံသွန်းလောင်းခြင်းတို့မှ သံအောက်ဆိုဒ်၊ ဆာလဖာဒိုင်အောက်ဆိုဒ်၊ ကယ်ဆီယမ်အောက်ဆိုဒ်၊ ဟိုက်ဒရိုကာဗွန်နှင့် ကာဗွန်ပါဝင်သည့်ဒြပ်ပေါင်းများထွက်ရှိနိုင်ပြီး ပတ်ဝန်းကျင် လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှုများဖြစ်ပေါ်လာခြင်း၊

(ခ) ထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်မှ ဖြတ်စစွန့်ပစ်ပစ္စည်းများ၊ Thermo Mechanically Treated Rebars များထုတ်လုပ်ခြင်းလုပ်ငန်းတွင် မဂ္ဂနီဆီယမ် ပါဝင်မှုများသော ဆီလီကွန်များကို အရည်ကျိုခြင်းမှ မီးခိုငွေ့များနှင့် အမှုန်အမွှားများထွက်ရှိခြင်းကြောင့် စက်ရုံအတွင်း အလုပ်သမားများနှင့် စက်ရုံဧရိယာ အနီးပတ်ဝန်းကျင်ရှိ ပြည်သူများ၏ အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများနှင့် အရေပြားရောဂါများ ဖြစ်စေနိုင်ခြင်းတို့ကြောင့် ကျန်းမာရေး ထိခိုက်မှုဖြစ်ပေါ်စေနိုင်သည့်အပြင် ပတ်ဝန်းကျင်ရှိ လေထုကို ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) ကုန်ကြမ်းများ အရည်ကျိုရာမှ ထွက်ရှိသော ပစ္စည်းများမှာ မီးလောင်လွယ်သော ပစ္စည်းများဖြစ်သည့်အတွက် အကာအကွယ်ပစ္စည်းများအား စနစ်တကျတပ်ဆင်ထားခြင်း မရှိပါက မီးဘေးအန္တရာယ်များဖြစ်စေနိုင်ခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ခြင်းမှထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ပြီး စီမံကိန်းစက်ရုံဧရိယာ အနီးတဝိုက်ရှိ ပြည်သူများ၏ ကျန်းမာရေးဆိုင်ရာ ထိခိုက်မှုများ၊ လူမှုရေးဆိုင်ရာ ထိခိုက်ခံစားရမှုများ ဖြစ်ပေါ်စေနိုင်ခြင်း။

၄။ သို့ဖြစ်ပါ၍ Yangon J.R Family Limited ၏ Production and Marketing of TMT Rebars (Thermo Mechanically Treated Rebars ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း) လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Cooperate Social Responsibility - CSR) အတွက် နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်းကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်သွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကိုဆောင်ရွက်ရန်၊

(ဂ) စီမံကိန်းဆောင်ရွက်မည့် လုပ်ငန်းရှင်အနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) တို့နှင့်အညီဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့် အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၅) နှင့် (၄၆) တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(င) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၇) မှ အပိုဒ် (၅၄) အထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(စ) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာပါ အချက်အလက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်နှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) ကို ရေးဆွဲရန်၊

(ဆ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာတွင် လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ စီမံကိန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ အလုပ်သမားများအတွက် လူမှုရေးဆိုင်ရာ သက်သာချောင်ချိရေးအစီအစဉ်များ (Workers' Social Welfare)၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုမည့် အစီအစဉ် (Monitoring Plan)၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမှုရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဇ) မီးခိုးငွေ့နှင့် အမှုန်အမွှားများ ထွက်ရှိမှုလျော့နည်းအောင်နှင့် အလုပ်သမားများနှင့် အနီးပတ်ဝန်းကျင်ရှိ ပြည်သူလူထုများ၏ ကျန်းမာရေးထိခိုက်မှုမရှိအောင် သတ္တုအရည်ကျိုရာတွင် Cyclone System အား ထည့်သွင်းတပ်ဆင်ခြင်းကို ဆောင်ရွက်သွားရန်၊

(ဈ) လုပ်ငန်းအဆင့်တိုင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စွန့်ပစ်ရေဆိုးသန့်စင်သည့် စနစ်တည်ထောင်၍ အမျိုးသားပတ်ဝန်းကျင်အရည်အသွေး (ထုတ်လွှတ်မှု) စံချိန်စံညွှန်း လမ်းညွှန်းချက်များတွင် သတ်မှတ်ထားသည့် စံချိန်စံညွှန်းနှင့်အညီ စနစ်တကျသန့်စင် စွန့်ပစ်သွားရန်၊

(ည) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) အစီရင်ခံစာတင်ပြရာတွင် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများဖြည့်စွက်၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ပူးတွဲတင်ပြရန်၊

(ဠ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် စီမံကိန်းလုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများအား အလေးထား ဆောင်ရွက်ရန်။

ခင်သီတာတင်
၃/၅/၂၀၁၈

(ခင်သီတာတင်)
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး

မိတ္တူကို

ရုံးလက်ခံ၊ မျှောစာတွဲ

# YANGON J.R FAMILY LIMITED.

NO.(1), KYAUK SEIN LANE (4), PADAMYA MYO THIT, MINGALARDONE TOWNSHIP, YANGON.

Email: kanishk @ jrmetalchennai.com

M-732
31-7-2018

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။ ၂၀၁၈ခုနှစ် ၊ ဇူလိုင် လ ၊ ( ၃၁ ) ရက်။

အကြောင်းအရာ။ **။ကုန်ကြမ်းရယူသုံးစွဲမည့် အစီအမံတင်ပြခြင်း။**

ကျွန်တော်များ ကုမ္ပဏီသည် Iron and Steel ထုတ်လုပ်ရာတွင် အောက်ပါ ကုန်ကြမ်းများအတွက် ရယူသုံးစွဲမည့်အစီအမံ ကိုအောက်ပါအတိုင်းတင်ပြအပ်ပါသည်။

(၁) Iron Scrap များကို မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် မှလည်းကောင်း၊ ဘုရင့်နောင်ဈေးကွက်မှ လည်းကောင်၊ အခြားသောပြည်တွင်းဈေးကွက်များမှလည်းကောင်း ရယူသုံးစွဲသွားမည်ဖြစ်ပါသည်။ ပြည်တွင်းဈေးကွက်မှလုံလောက်မှုမရှိပဲပြည်ပမှတင်သွင်းမည်ဆိုပါက ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ ထောက်ခံချက်ရယူ၍တင်သွင်းမည်ဖြစ်ပါသည်။

(၂) Silico၊ Mangnese နှင့် Sponge Iron Lumps များကို အိန္ဒိယ နိုင်ငံမှ တင်သွင်းရယူသုံးစွဲသွားမည်ဖြစ်ပါသည်။

(၃) လုပ်ငန်းအတွက်အသုံးပြုမည့်ကုန်ကြမ်းများကို ပြည်တွင်းမှမလုံလောက်ပဲ ပြည်ပမှတင်သွင်းမည်ဆိုပါကပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ ထောက်ခံချက်ရယူတင်သွင်းမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့် –

Mr. Ramchander Singh Narayan Singh
Managing Director
Yangon J.R Family Limited.

YANGON J.R FAMILY LIMITED

ကုန်ကြမ်းရယူသုံးစွဲမည့်ဇယား

| စဉ် | အကြောင်းအရာ | ယူနစ် | ရနိုင်မည့် အရေအတွက် |
|---|---|---|---|
| 1 | IRON SCRAP | | |
| | (၁)မြန်မာ့စီးပွါးရေးဦးပိုင်လီမိတက် | M-TON | 250,000.00 |
| | (၂)ဘုရင့်နောင် ဈေးကွက် | M-TON | 150,000.00 |
| | (၃)အခြား | M-TON | 100,000.00 |
| | စုစုပေါင်း | | 500,000.00 |
| 2 | Silico Mangnese<br>INDIA | Kg | 3,000.00 |
| 3 | Sponge Iron Lumps<br>INDIA | Kg | 20,000.00 |

Mr. Ramchander Singh Narayan Singh

Managing Director

Yangon J.R Family Limited.

YANGON J.R FAMILY LIMITED.
NO(1), KYAUKSEIN LANETHWELAY, PADAMYAR WARD, PADAMYAR MYOTHIT, MINGALARDON TSP, YANGON.
PH:09-5139613

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။ ၂၀၁၈ခုနှစ်၊ ဇွန်လ ( ၂၈ )ရက်။

အကြောင်းအရာ။ ။ ပြည်ပမှတင်သွင်းမည့်ကုန်ကြမ်းနှင့်ကုန်အမှတ်တံဆိပ်။

Yangon J.R Family Limited သည် Iron Steel ထုတ်လုပ်ရန်အတွက် နိုင်ငံခြားကုန်ကြမ်းများကိုအိန္ဒိယမှဝယ်ယူတင်သွင်းမည်ဖြစ်ပါသည်။ ထို့ပြင်ထွက်ရှိလာသည့်Iron Steelကုန်ချောများတွင် (J.R)ကုန်အမှတ်တံဆိပ်အသုံးပြုသွားမည်ဖြစ်ပါသည်။

MR.RAMCHANDER SINGH NARAYAN SINGH
MANAGING DIERCTOR
YANGON J.R FAMILY LIMITED

# YANGON J.R FAMILY LIMITED.

NO.11, KYAUKSEIN LANETHWELAY, PADAMYAR WARD, PADAMYAR MYOTHIT, MINGALARDON TSP, YANGON

PH:09-5139613


သို့

ဉက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။ ၂၀၁၈ခုနှစ်၊ ဖွန်လ ( ၂၈ )ရက်။

အကြောင်းအရာ။ ။EIA လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း။

Yangon J.R Family Limited သည် သဘာဂပတ်ဂန်းကျင်ညစ်ညမ်းမှုကိစ္စအတွက် EIA အစီရင်ခံစာကိုသက်ဆိုင်ရာလိုင်စင်အရ ကုမ္ပဏီများနှင့်ညှိနှိုင်းလုပ်ဆောင်သွားမည်ဖြစ်ပါကြောင်းဂန်ခံကတိပြုပါသည်။

MR.RAMCHANDER SINGH NARAYAN SINGH

MANAGING DIERCTOR

YANGON J.R FAMILY LIMITED

# YANGON J.R FAMILY LIMITED.

NO.(1), KYAUKSEIN LANETHWELAY, PADAMYAR WARD, PADAMYAR MYOTHIT, MINGALARDON TSP/, YANGON.

PH:09-5139613, 09-796819361

သို့

ဉက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေ့စွဲ။ ။ ၂၀၁၈ ခုနှစ်၊ ဇွန် လ၊ ( ၈ )ရက်။

အကြောင်းအရာ။ ။ **<u>တင်သွင်းမည့် ကုန်ကြမ်းပစ္စည်းများအပေါ် ဝန်ခံချက်</u>** ။

ကျွန်တော်များကုမ္ပဏီမှ ကုန်ထုတ်လုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းပစ္စည်းများတင်သွင်းရာတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ ထောက်ခံချက်ကိုရယူဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်–

**MR RAMCHANDER SINGH NARAYAN SINGH**

**MANAGING DIRECTOR**

**YANGON JR FAMILY LIMITED.**



**တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန**
**ရန်ကုန်တိုင်းဒေသကြီး**
**ရန်ကုန်မြို့**
စာအမှတ်၊ ရက-၁/၃/၄(အီးအိုင်အေ)(၄၆၈/၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေလ ၃ ရက်

သို့

✓ အတွင်းရေးမှူး
ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ **Yangon J.R Family Limited ၏ Production and Marketing of TMT Rebars (Thermo Mechanically Treated Rebars) ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၂၃-၄-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ရကတ/ရနမ-၂/၂၀၁၇ (၁၈၅)

၁။ ရာနှုန်းပြည့်နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံမှုဖြင့် Yangon J.R Family Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (မြောင်းတကာသံမဏိစက်မှုဇုန်)၊ မြေကွက်အမှတ် (၃၄၀၊ ၃၄၃၊ ၃၃၈၊ ၃၄၅၊ ၃၃၉၊ ၃၄၄) တွင် Thermo Mechanically Treated Rebars ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်လိုကြောင်း တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေအပိုဒ် ၇၁၊ ၇၂ (က) တို့အရ လက်ခံခြင်း၊ ငြင်းပယ်ခြင်းနှင့် အတည်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက် စိစစ်ပြီး ပတ်ဝန်းကျင်ဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို စိစစ်တွေ့ရှိရပါသည်-

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ နှစ် (၆၀) ဖြစ်ပြီး သက်တမ်းတိုး (၅) နှစ် (၁) ကြိမ် ဆောင်ရွက်ရမည်ဖြစ်ကာ တည်ဆောက်ပြင်ဆင်ရေးကာလမှာ (၃) နှစ် ဖြစ်ကြောင်း၊

(ခ) Thermo Mechanically Treated Rebars ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြေဧရိယာ ဧက (၁၀.၉၇၇) စတုရန်းမီတာပေါ်တွင် (၄၄,၄၂၂.၃၉) စတုရန်းပေ ပတ်လည်ရှိသော မြေနေရာ၌ လုပ်ငန်းတည်ထောင်ဆောင်ရွက်မည်ဖြစ်ကြောင်း၊

(ဂ) အသုံးပြုသည့်ကုန်ကြမ်းများမှာ Silicon Manganese နှင့် Sponge Iron Lumps တို့အား မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်မှလည်းကောင်း၊ ဘုရင့်နောင်ရှိဆိုင်များမှလည်းကောင်း၊ စက်မှုဇုန်များမှလည်းကောင်း၊ ပြင်ပသံထည်ပစ္စည်းအဟောင်းရောင်းသော ဆိုင်များမှ လည်းကောင်း ကုန်ကြမ်းများအား ရယူအသုံးပြုသွားမည်ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းသည် ပထမနှစ်တွင် Thermo Mechanically Treated Rebars များကို (၆၀,၀၀၀) ကုဗမီတာကျော်မှ (၅) နှစ်အတွင်း (၆၄,၀၀၀) ကုဗမီတာကျော်အထိ လည်းကောင်း တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊

(င) သတ္တုအရည်ကျိုရာတွင် Induction Furnace (Electronic Furnace) စနစ်အား အသုံးပြု၍ မီးခိုးငွေ့များနှင့် အမှုန်အမွှားများကို မှုတ်ထုတ်ပြီး မြေပြင်မှ ၃၃ မီတာအမြင့်ရှိသော ခေါင်တိုင်မှ တဆင့်လေထုထဲသို့ ထုတ်လွှတ်သွားမည်ဖြစ်ကြောင်း၊

(စ) နိုင်ငံခြားသားဝန်ထမ်း (၅) ဦးနှင့် နိုင်ငံသား (ပြည်တွင်း) ဝန်ထမ်း (၁၉၂) ဦး စုစုပေါင်း (၁၉၇) ဦးခန့်အပ်ပြီး လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်းကို လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Cooperate Social Responsibility - CSR) လုပ်ငန်းများတွင် ထည့်ဝင် အသုံးပြုသွားမည်ဖြစ်ကြောင်း။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း သုံးသပ်တွေ့ရှိရပါသည်-

(က) Thermo Mechanically Treated Rebars များအား အရည်ကျိုခြင်း၊ ပုံသွန်းလောင်း ခြင်းတို့မှ သံအောက်ဆိုဒ်၊ ဆာလဖာဒိုင်အောက်ဆိုဒ်၊ ကယ်ဆီယမ်အောက်ဆိုဒ်၊ ဟိုက်ဒရို ကာဗွန်နှင့် ကာဗွန်ပါဝင်သည့်ဒြပ်ပေါင်းများထွက်ရှိနိုင်ပြီး ပတ်ဝန်းကျင် လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှုများဖြစ်ပေါ်လာခြင်း၊

(ခ) ထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်မှ ဖြတ်စစွန့်ပစ်ပစ္စည်းများ၊ Thermo Mechanically Treated Rebars များထုတ်လုပ်ခြင်းလုပ်ငန်းတွင် မဂ္ဂနီဆီယမ် ပါဝင်မှုများသော ဆီလီကွန် များကို အရည်ကျိုခြင်းမှ မီးခိုငွေ့များနှင့် အမှုန်အမွှားများထွက်ရှိခြင်းကြောင့် စက်ရုံအတွင်း အလုပ်သမားများနှင့် စက်ရုံဧရိယာ အနီးပတ်ဝန်းကျင်ရှိ ပြည်သူများ၏ အသက်ရှူ လမ်းကြောင်းဆိုင်ရာ ရောဂါများနှင့် အရေပြားရောဂါများ ဖြစ်စေနိုင်ခြင်းတို့ကြောင့် ကျန်းမာရေး ထိခိုက်မှုဖြစ်ပေါ်စေနိုင်သည့်အပြင် ပတ်ဝန်းကျင်ရှိ လေထုကို ညစ်ညမ်းမှု များ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) ကုန်ကြမ်းများ အရည်ကျိုရာမှ ထွက်ရှိသော ပစ္စည်းများမှာ မီးလောင်လွယ်သော ပစ္စည်း များဖြစ်သည့်အတွက် အကာအကွယ်ပစ္စည်းများအား စနစ်တကျတပ်ဆင်ထားခြင်း မရှိပါက မီးဘေးအန္တရာယ်များဖြစ်စေနိုင်ခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ခြင်းမှထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှုများ ဖြစ်ပေါ် နိုင်ပြီး စီမံကိန်းစက်ရုံဧရိယာ အနီးတဝိုက်ရှိ ပြည်သူများ၏ ကျန်းမာရေးဆိုင်ရာ ထိခိုက်မှုများ၊ လူမှုရေးဆိုင်ရာ ထိခိုက်ခံစားရမှုများ ဖြစ်ပေါ်စေနိုင်ခြင်း။

၄။ သို့ဖြစ်ပါ၍ Yangon J.R Family Limited ၏ Production and Marketing of TMT Rebars (Thermo Mechanically Treated Rebars ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း) လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Cooperate Social Responsibility - CSR) အတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်းကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်သွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကိုဆောင်ရွက်ရန်၊

(ဂ) စီမံကိန်းဆောင်ရွက်မည့် လုပ်ငန်းရှင်အနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) တို့နှင့်အညီဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့် အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၅) နှင့် (၄၆) တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(င) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၇) မှ အပိုဒ် (၅၄) အထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(စ) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာပါ အချက်အလက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်နှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) ကို ရေးဆွဲရန်၊

(ဆ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာတွင် လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ စီမံကိန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ အလုပ်သမားများအတွက် လူမှုရေးဆိုင်ရာ သက်သာချောင်ချိရေးအစီအစဉ်များ (Workers' Social Welfare)၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုမည့် အစီအစဉ် (Monitoring Plan)၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမှုရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဇ) မီးခိုးငွေ့နှင့် အမှုန်အမွှားများ ထွက်ရှိမှုလျော့နည်းအောင်နှင့် အလုပ်သမားများနှင့် အနီးပတ်ဝန်းကျင်ရှိ ပြည်သူလူထုများ၏ ကျန်းမာရေးထိခိုက်မှုမရှိအောင် သတ္တုအရည်ကျိုရာတွင် Cyclone System အား ထည့်သွင်းတပ်ဆင်ခြင်းကို ဆောင်ရွက်သွားရန်၊

(ဈ) လုပ်ငန်းအဆင့်တိုင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စွန့်ပစ်ရေဆိုးသန့်စင်သည့် စနစ်တည်ထောင်၍ အမျိုးသားပတ်ဝန်းကျင်အရည်အသွေး (ထုတ်လွှတ်မှု) စံချိန်စံညွှန်း လမ်းညွှန်ချက်များတွင် သတ်မှတ်ထားသည့် စံချိန်စံညွှန်းနှင့်အညီ စနစ်တကျသန့်စင် စွန့်ပစ်သွားရန်၊

(ည) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) အစီရင်ခံစာတင်ပြရာတွင် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများဖြည့်စွက်၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ပူးတွဲတင်ပြရန်၊

(ဠ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် စီမံကိန်းလုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများအား အလေးထား ဆောင်ရွက်ရန်။

ခင်သီတာတင်
၃ | ၁ | ၂၀၁၈

(ခင်သီတာတင်)
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး

မိတ္တူကို

ရုံးလက်ခံ၊ မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

မြေကွက်အမှတ် ၄၉၊ စိမ်းလဲ့မေ လမ်းသွယ်၊

ကမ္ဘာအေးဘုရားလမ်း၊၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၂၆၃

🖷 ၀၁-၆၅၈၂၆၄


စာအမှတ်၊ရကတ/ရနမ-၂ /၂၀၁၈ ( ၂၂၉ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် မေ လ ၁၁ ရက်

M.AHS 14/5/18

သို့

ညွှန်ကြားရေးမှူး

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၂)

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

အကြောင်းအရာ။ **အတည်ပြုလျှောက်ထားလွှာ လွှဲပြောင်းပေးခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) Yangon J.R Family Limited. ၏ ၂၀-၄-၂၀၁၈ ရက်စွဲပါစာ

(၂) ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး၊ ရန်ကုန်တိုင်း ဒေသကြီး ၏ ၃-၅-၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ရက-၁/၃-၄(အီးအိုင်အေ)(၄၆၈/၂၀၁၈)

၁။ Yangon J.R Family Limited. မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီ မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (မြောင်းတကာသံမဏိစက်မှုဇုန်)၊ မြေကွက်အမှတ် (၃၄၀၊ ၃၄၃၊ ၃၃၈၊ ၃၄၅၊ ၃၃၉၊ ၃၄၄) တွင် Production and Marketing of TMT Rebars လုပ်ငန်းဆောင်ရွက်လိုကြောင်း ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်းအား ၂၀၁၈ ခုနှစ် ဧပြီ လ ၂၃ ရက်စွဲပါ စာအမှတ်၊ ရကတ/ရနမ-၂/၂၀၁၈/(၁၈၅)ဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနသို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ ကုမ္ပဏီ၏ အတည်ပြုလျှောက်ထားလွှာအား ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနသို့ သဘောထားတောင်းခံခဲရာ ရည်ညွှန်း(၂) ပါစာဖြင့် သဘောထားပြန်ကြားလာပါသည်။ အဆိုပါဌာနမှ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း အောက်ပါအတိုင်း သုံးသပ်ချက်ဖြင့်အကြောင်းကြားလာပါသည်-

(က) Thermo Mechanically Treated Rebars များအား အရည်ကျိုခြင်း၊ ပုံသွန်းလောင်းခြင်း တို့မှ သံအောက်ဆိုဒ်၊ ဆာလဖာဒိုင်အောက်ဆိုဒ်၊ ဟိုက်ဒရိုကာဗွန်နှင့် ကာဗွန်ပါဝင်သည့် ဒြပ်ပေါင်းများ ထွက်ရှိနိုင်ပြီး ပတ်ဝန်းကျင် လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှုများ ဖြစ်ပေါ်လာခြင်း၊

(ခ) ထုတ်လုပ်ခြင်းလုပ်ငန်း အဆင့်ဆင့်မှ ဖြတ်စစွန့်ပစ်ပစ္စည်းများ၊ Thermo Mechanically Treated Rebars များထုတ်လုပ်ခြင်းလုပ်ငန်းတွင် မဂ္ဂနီဆီယမ်ပါဝင်များသော ဆီလီကွန်များကို အရည်ကျိုခြင်းမှ မီးခိုးငွေ့များနှင့် အမှုန်အမွှားများ

ထွက်ရှိခြင်းကြောင့် စက်ရုံအတွင်းအလုပ်သမားများနှင့် စက်ရုံဧရိယာအနီး ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများနှင့် အရေပြားရောဂါများ ဖြစ်စေနိုင်ခြင်းတို့ကြောင့် ကျန်းမာရေး ထိခိုက်မှု ဖြစ်ပေါ်စေနိုင်သည့် အပြင် ပတ်ဝန်းကျင်ရှိ လေထုကို ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) ကုန်ကြမ်းများ အရည်ကျိုရာမှ ထွက်ရှိသော ပစ္စည်းများမှာ မီးလောင်လွယ်သော ပစ္စည်းများဖြစ်သည့်အတွက် အကာအကွယ်ပစ္စည်းများ စနစ်တကျတပ်ဆင်ထားခြင်း မရှိပါကမီးဘေးအန္တရာယ်များ ဖြစ်စေနိုင်ခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ပြီး စီမံကိန်းစက်ရုံဧရိယာ အနီးတဝိုက်ရှိ ပြည်သူများ၏ ကျန်းမာရေးဆိုင်ရာ ထိခိုက်မှုများ၊ လူမှုရေးဆိုင်ရာ ထိခိုက်ခံစားရမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းသည် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး(သို့) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ဆောင်ရွက်ရမည်ဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆ အရ အတည်ပြုလျှောက်ထားလွှာအား သက်ဆိုင်ရာသို့ လွှဲပြောင်းပေးပို့အပ်ပါသည်။

မျိုးခိုင်ဦး
ညွှန်ကြားရေးမှူး

မိတ္တူကို
Yangon J.R Family Limited.
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၇၈၉၂၊ ၆၅၇၈၉၃

🖷 ၀၁-၆၅၇၈၉၂

စာအမှတ်၊ရကတ/ရနမ- ၂ /၂၀၁၈ ( ၁၈၅ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၂၃ ရက်

သို့

ညွှန်ကြားရေးမှူး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အပေါ် သဘောထား ပြန်ကြားပေးပါရန်ကိစ္စ**

ရည်ညွှန်းချက် ။ Yangon J.R Family Limited. ၏ ၂၀-၄-၂၀၁၈ ရက်စွဲပါစာ

၁။ Yangon J.R Family Limited. မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီ မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (မြောင်းတကာသံမဏိစက်မှုဇုန်)၊ မြေကွက်အမှတ် (၃၄၀၊ ၃၄၁၊ ၃၃၈၊ ၃၄၅၊ ၃၃၉၊ ၃၄၄) တွင် Production and Marketing of TMT Rebars လုပ်ငန်းဆောင်ရွက်လိုကြောင်း ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ -၇၁ အရ အတည်ပြုလွှာ အား လက်ခံခြင်း၊ ငြင်းပယ်ခြင်းကို အလုပ်လုပ်ရက် ၁၅ ရက်အတွင်း ရင်းနှီးမြှုပ်နှံသူ ထံသို့ ပြန်ကြားရန်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ - ၇၂(ခ)အရ အတည်ပြုလွှာအား လက်ခံသည့် နေ့ရက်မှ ရက်ပေါင်း ၃၀ အတွင်း အတည်ပြုမိန့် ထုတ်ပေးရန်ဖြစ်ပါ၍ ပူးတွဲပါ အတည်ပြုလွှာနှင့် ပတ်သက်၍ မည်သည့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက် ဆောင်ရွက်ရမည်ကို **ဆောလျင်စွာ** ပြန်ကြားပေးနိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

၃။ Yangon J.R Family Limited. နှင့် စပ်လျဉ်း၍ ဆက်သွယ် ဆောင်ရွက်ရမည့် ပုဂ္ဂိုလ်မှာ ဦးဇင်ဝေ ဖုန်းနံပါတ် ၀၉-၄၂၀၀၉၉၃၅၆ ဖြစ်ပါသည်။

**ပူးတွဲ-အတည်ပြုလျှောက်ထားလွှာ (၁) စုံ**

(2-1ေwM) 24/4/2018

မျိုးခိုင်ဦး

ညွှန်ကြားရေးမှူး

မိတ္တူကို

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

Yangon J.R Family Limited.

ရုံးလက်ခံ/မျှောစာတွဲ

PAT (12/2018)

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yangon J.R Family Ltd. မှ Production and Marketing of TMT Rebars (Thermo Mechanically Treated Rebars) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြလာခြင်းကိစ္စ

**အထူးဖိတ်**

ဦးဆောင်ညွှန်ကြားရေးမှူး

အမှတ်-၃ အကြီးစားစက်မှုလုပ်ငန်း

စက်မှုဝန်ကြီးဌာန

၅-၃-၁၈

(မြင့်မောင်)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈
ဖက်(စ်) -၀၁-၆၅၈၁၄၁

စာအမှတ်၊ မရက-၃/အ-၀၁၆/၂၀၁၈(၀၉၇ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၅ ရက်

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yangon J.R Family Limited မှ Production and Marketing of TMT Rebars (Thermo Mechanically Treated Rebars) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာ တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Yangon J.R Family Limited ၏ ၂၀၁၈ ခုနှစ် မေလ ၁၆ ရက်နေ့စွဲပါစာ

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yangon J.R Family Limited တည်ထောင်ကာ Production and Marketing of TMT Rebars (Thermo Mechanically Treated Rebars) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါ သည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ-၃၉ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စိစစ်မှုများ ပြုလုပ်ပြီးဖြစ်ပါ၍ အဆိုပြုလျှောက်ထားလွှာအား လက်ခံကြောင်းနှင့် ဝန်ဆောင်စရိတ်အား ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနသို့ ပေးသွင်းသွားရန် အကြောင်းကြားပါသည်။

အဖွဲ့ခေါင်းဆောင်
(သန့်စင်လွင်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

**Yangon J.R Family Limited**
**မြေကွက်အမှတ်-၃၄၀၊၃၄၁၊၃၃၈၊၃၄၅၊၃၃၉၊၃၄၄၊**
**မြောင်းတကာသံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။**
မိတ္တူကို
ကုမ္ပဏီရေးရာဌာနခွဲ
ရုံးလက်ခံ/ မျှောစာတွဲ

